ကုမ္ပဏီအမည် - Bhagwati Veneer Private Limited

လုပ်ငန်း - ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၁-၈-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၁၈-၈-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၉-၈-၂၀၁၅ | ၈-၉-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ပထမ အကြိမ်) | ၁၉-၈-၂၀၁၅ | ၁၀-၉-၂၀၁၅ | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၁၀-၉-၂၀၁၅ | | |
| | (ဂ) စက်မှုဝန်ကြီးဌာန (ပထမအကြိမ်) | ၁၉-၈-၂၀၁၅ | ၃၁-၈-၂၀၁၅ | |
| ၄ | PAT တင်ပြခြင်း | ၁၇-၈-၂၀၁၅<br>၂၉/၂၀၁၅ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၈-၈-၂၀၁၅ | | |
| ၆ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | | | |
| ၇ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေး ( ၁၅/၂၀၁၅) သို့ တင်ပြခြင်း | ၂၁-၈-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် အစုံပေးပို့ခြင်း | ၂၁-၉-၂၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၄၉ ရက် | | |

၁။ ကုမ္ပဏီအမည် — Bhagwati Veneer Private Limited
၂။ အဖွဲ့အစည်းပုံသဏ္ဌာန် — ရာနှိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား — ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း
၄။ တည်နေရာ — မြေကွက်အမှတ် (၆၁၊၆၂)၊ မြေတိုင်းရပ်ကွက်အမှတ် (၅၁)၊ သာဓုကန်စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု — အမေရိကန်ဒေါ်လာ ၄.၅၀ သန်း
၆။ ရောင်းချမည့်စနစ် — Plywood ကို ပြည်ပ ၈၀% နှင့် ပြည်တွင်း၂၀% ရောင်းချမည် ဖြစ်ပြီး Face Veneer, Core Veneer, Teak Veneer, Sawn Timber တို့ကို ပြည်ပ ၁၀၀ % ရောင်းချမည်ဖြစ်ပါသည်။
၇။ လုပ်ငန်းသက်တမ်း — ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ်
၈။ အရင်းကြေကာလ — ၄ နှစ် ၈လ
၉။ IRR — ၂၃%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၉၃.၂၄၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၅၄၇.၂၀၀ |
| ၅ | ဝင်ငွေခွန် | ၁၃၂၆.၀၀၀ | ၁၈၇၂.၀၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၃၇၈၄.၈၀၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ်ထက် ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၂၆၄)ဦး |
| ၈ | CSR (၂%) | | ၁၁၀.၄၀၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၇၅၆.၀၀၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၂၄၆ ဦး<br>ပြည်ပ ၁၈ ဦး<br>ပြည်တွင်းလုပ်သား(၂၆၄)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၁၄၂၁.၄၀၀ | ၇၀၇၁.၅၆၅ |
| | Cost & Benefit | ၁:၄ | |

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Bhagwati Veneer Private Limited မှ ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Bhagwati Veneer Private Limited<br>- Mr. Pradeep Kumar (Nepalese) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၆၁၊၆၂)၊ မြေတိုင်းရပ်ကွက်အမှတ် (၅၁)၊ သာစုကန် စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ |
| | မြေပိုင်ရှင် | - ဦးဘရမ်း (ခ)ဦးဆာရ်ဘန်ကူမာရ် |
| | မြေအကျယ်အဝန်း | စုစုပေါင်း ၆.၂၆၄ ဧက (၂၅၃၄၉.၅၀၆ စတုရန်း မီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US $ ၁၂၆,၇၄၇.၄၂<br>တစ်စတုရန်းမီတာလျှင် US $ ၅ |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့်အမျိုးအစား | - US$ ၄.၅၀ သန်း |

| | **(US $ သန်း)** |
|---|---|
| ငွေသား | ၂.၇၄၃ |
| စက်နှင့် စက်ပစ္စည်း | ၁.၅၅၄ |
| ရုံးသုံးပစ္စည်း | ၀.၀၁၉ |
| အဆောက်အဦ | ၀.၄၈၄ |
| **စုစုပေါင်း** | **၄.၅၀၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - **၂၆၄ ဦး** |
| | ပြည်တွင်း | - ၂၄၆ ဦး (အနိမ့်ဆုံးလစာကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂၀၅,၀၀၀ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၈ ဦး(အနိမ့်ဆုံး လစာ USD ၄၀၀ ဖြစ်ပြီးအမြင့်ဆုံးလစာ မှာ USD ၂,၀၀၀ ဖြစ်ပါသည်။) |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်စနစ် | - Plywood ကို ပြည်ပ ၈၀% နှင့် ပြည်တွင်း၂၀% ရောင်းချမည် ဖြစ်ပြီး Face Veneer, Core Veneer, Teak Veneer, Sawn Timber တို့ကို ပြည်ပ ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်။ |
| ၈။ | ရောင်းချမည့်ပစ္စည်း (ဖြနှစ်မြောက်) | |

| စဉ် | အမျိုးအမည် | အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း(ပြည်ပ) (US $ /CBM) | ရောင်းချမည့် ဈေးနှုန်း (ပြည်တွင်း) (ကျပ်/CBM) |
|---|---|---|---|---|
| (က) | Plywood (၂၀%) | | | |
| | (၁) 3.20 MM | ၁၄၈၈.၂၄ | - | ၁၀၁၈၄၇၃.၀၀ |
| | (၂) 6 MM | ၇၈၆.၂၄ | - | ၉၆၄၈၆၉.၀၀ |
| | (၃) 12 MM | ၂၅၂.၇၂ | - | ၉၃၄၂၃၉.၀၀ |
| | (၄) 19 MM | ၂၀၀.၈၀ | - | ၈၂၇၀၃၀.၀၀ |
| | Plywood (၈၀%) | | | |
| | (၁) 3.20 MM | ၅၉၅၂.၉၆ | ၈၄၉.၀၀ | - |
| | (၂) 6 MM | ၃၀၄၄.၉၆ | ၈၀၅.၀၀ | - |
| | (၃) 12 MM | ၁၀၁၀.၈၈ | ၇၂၁.၀၀ | - |
| | (၄) 19 MM | ၁၁၂၃.၂၀ | ၆၈၉.၀၀ | - |
| (ခ) | Face Veneer | ၄၇၃၇ | ၁၀၂၁ | - |
| (ဂ) | Core Veneer | ၂၉၂ | ၃၈၃ | - |
| (ဃ) | Teak Veneer | ၈၈၃ | ၅၁၆၉ | - |
| (င) | Sawn Timber | ၅၇၆၈ | ၁၀၀၁ | - |

| | | |
|---|---|---|
| ၉။ | ကုမ္ပဏီဝင်ငွေ(ဆဋ္ဌမမြောက်နှစ်) | - US $ ၂၆.၆၆ သန်း |
| | ကုန်ကျစရိတ် | - US $ ၂၅.၃၄ သန်း |
| | အသားတင်အမြတ် | - US $ ၁.၃၂ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၄၄ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US $ ၀.၁၁ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၈ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၃ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၀၀၀ MWH |

| | | |
|---|---|---|
| ၁၂။ | အခြားတင်ပြချက် | - Bhagwati Veneer Private Limited ၏ MOA, AOA မူကြမ်းတင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဘရမ်း (ခ)ဦးဆာရ်ဘာန်ကူမာရ်နှင့် မြေငှားသူ Bhagwati Veneer Private Limited တို့ ချုပ်ဆိုထားသော မြေငှားရမ်း စာချုပ်(မူကြမ်း)နှင့် မြေပိုင်ရှင်၏ မြေပိုင်ဆိုင်မှု အထောက်အထား တင်ပြထားပါသည်။<br>- စက်ရုံအဆောက်အဦ ခာတ်ပုံများ၊ မြေပုံများ တင်ပြထားပါသည်။<br>- ဒါရိုက်တာ စာရင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများကို တင်ပြထားပါသည်။<br>- စင်ကာပူနိုင်ငံတွင် Bhagwati International Pte Limited အမည်ဖြင့်(၃၁-၅-၂၀၁၅) ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၁,၅၇၅,၅၆၆.၀၇ ရှိကြောင်း ဖော်ပြထားသည့် ငွေကြေး အထောက်အထား တင်ပြထားပါသည်။<br>- Exchange Rate အဖြစ် 1US$ = 1200 MMK ဖြင့် တွက်ချက် တင်ပြထားပါသည်။<br>- Bhagwati International Pte Limited သည် ကုမ္ပဏီမှတ်ပုံတင်အမှတ် 200716889R ဖြင့် ၁၃-၉-၂၀၀၇ ရက်နေ့၌ စင်ကာပူနိုင်ငံတွင် ကုမ္ပဏီမှတ်ပုံတင်ထားကြောင်း အထောက်အထား၊ Notarial Certificate နှင့် MOA, AOA တင်ပြထား ပါသည်။<br>- မိခင်ကုမ္ပဏီ Bhagwati International Pte Limited မှ Bhagwati Veneer Private Limited တွင် Mr. Pradeep Kumar အား မန်နေဂျင်းဒါရိုက်တာအဖြစ်လည်းကောင်း၊ Ms. Sri Murali နှင့် Mr. Sushil Kumar More တို့အား ဒါရိုက်တာအဖြစ် လည်းကောင်း ခန့်အပ်ကြောင်း Board of Directors' (BOD) Resolution တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - သစ်စိုက်ခင်းလျှောက်ထား၍ စိုက်ပျိုးမည် ဖြစ်ကြောင်း တင်ပြစာ၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် အစီအစဉ်များကို တင်ပြထားပါသည်။CSR Project တို့ကို တင်ပြထားပါသည်။<br>- သစ်စိုက်ခင်း လျှောက်ထား၍ စိုက်ပျိုးမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | - IEE/ EMP ပြုလုပ်မည့် အစီအစဉ် ဆက်လက်တင်ပြသွားမည် ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၂/ န - ၁၃၁ / ၂၀၁၅ ( ၄၃၈ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၉ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Bhagwati Veneer Private Limited မှ ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ Bhagwati International Pte. Ltd. မှ မြန်မာနိုင်ငံတွင် Bhagwati Veneer Private Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၅၁)၊ မြေကွက်အမှတ် (၆၁၊၆၂)ရှိ စုစုပေါင်းမြေအကျယ်အဝန်း ၆.၂၆၄ ဧက (၂၅၃၄၉.၅၀၆ စတုရန်းမီတာ)ကို ငှားရမ်းကာ ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဘရမ်း (ခ)ဦးဆာရ်ဘန်ကူမာရ်နှင့် မြေငှားသူ Bhagwati Veneer Private Limited တို့ ချုပ်ဆိုထားသော မြေငှားရမ်းစာချုပ်(မူကြမ်း) နှင့် အဆောက်အဦ ဓါတ်ပုံများ တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၆.၂၆၄ ဧက (၂၅၃၄၉.၅၀၆ စတုရန်းမီတာ)ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခမှာ တစ်စတုရန်းမီတာလျှင် US$ ၅ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခမှာ US$ ၁၂၆,၇၄၇.၅၃ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် နှင့် (၁၀) နှစ် နှစ်ကြိမ် သက်တမ်း တိုးမြှင့်ခွင့် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၄.၅၀ သန်း ဖြစ်ပြီး အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| | | အမေရိကန်ဒေါ်လာ (သန်းပေါင်း) |
|---|---|---|
| (က) | ငွေသား | ၂.၄၄၃ |
| (ခ) | စက်နှင့် စက်ပစ္စည်း | ၁.၅၅၄ |
| (ဂ) | ရုံးသုံးပစ္စည်း | ၀.၀၁၉ |
| (ဃ) | အဆောက်အဦ | ၀.၄၈၄ |
| | **စုစုပေါင်း** | **၄.၅၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ(၂၄၆)ဦးနှင့် ပြည်ပဝန်ထမ်းဦးရေ(၁၈)ဦး စုစုပေါင်း (၂၆၄) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂၀၅,၀၀၀ဖြစ်ကြောင်းနှင့် ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန် ဒေါ်လာ ၂,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများမှ Plywood ကို ပြည်ပ ၈၀% နှင့် ပြည်တွင်း ၂၀% ရောင်းချမည်ဖြစ်ပြီး Face Veneer, Core Veneer, Teak Veneer, Sawn Timber တို့ကို ပြည်ပ ၁၀၀ % ရောင်းချမည်ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း(ပြည်ပ) (US $ /CBM) | ရောင်းချမည့် ဈေးနှုန်း (ပြည်တွင်း) (ကျပ်/CBM) |
|---|---|---|---|---|
| (က) | Plywood (၂၀%) | | | |
| | (၁) 3.20 MM | ၁၄၈၈.၂၄ | - | ၁၀၁၈၄၇၃.၀၀ |
| | (၂) 6 MM | ၇၈၆.၂၄ | - | ၉၆၄၈၆၉.၀၀ |
| | (၃) 12 MM | ၂၅၂.၇၂ | - | ၉၃၄၂၃၉.၀၀ |
| | (၄) 19 MM | ၂၈၀.၈၀ | - | ၈၂၇၀၃၀.၀၀ |
| | Plywood (၈၀%) | | | |
| | (၁) 3.20 MM | ၅၉၅၂.၉၆ | ၈၄၉.၀၀ | - |
| | (၂) 6 MM | ၃၁၄၄.၉၆ | ၈၀၅.၀၀ | - |
| | (၃) 12 MM | ၁၀၁၀.၈၈ | ၇၂၀.၀၀ | - |
| | (၄) 19 MM | ၁၁၂၃.၂၀ | ၆၈၉.၀၀ | - |

| စဉ် | အမျိုးအမည် | အရေအတွက် (CBM) | ရောင်းချမည့် ဈေးနှုန်း(ပြည်ပ) (US $ /CBM) | ရောင်းချမည့် ဈေးနှုန်း (ပြည်တွင်း) (ကျပ်/CBM) |
|---|---|---|---|---|
| (ခ) | Face Veneer | ၄၇၃၇ | ၁၀၂၀ | - |
| (ဂ) | Core Veneer | ၂၉၂ | ၃၈၃ | - |
| (ဃ) | Teak Veneer | ၈၈၃ | ၅၁၆၉ | - |
| (င) | Sawn Timber | ၅၇၆၈ | ၁၀၀၀ | - |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

အမေရိကန်ဒေါ်လာ
(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂၆.၆၆ |
| (ခ) | အသုံးစရိတ် | ၂၅.၃၄ |
| (ဂ) | အသားတင်အမြတ် | ၁.၃၂ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၄၄ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၁၁ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၃% ဖြစ် ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာအား ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်းရှိပါကြောင်းနှင့် အဆိုပါရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာအချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)အား အသားတင် အမြတ်ငွေ၏ ၂ % ကို အသုံးပြုရန်အပါအဝင် ကတိကဝတ်များအား လုပ်ငန်း စီမံချက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်)အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊ အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါသည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**
**[ကုမ္ပဏီမှ ဆက်လက်ရေးဆွဲ တင်ပြမည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။]**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှု၊ ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာ ဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါ သည်။ **နောက်ဆက်တွဲ(ဂ)**
**[ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိတင်ပြထားပါသည်။]**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် စင်ကာပူနိုင်ငံတွင် Bhagwati International Pte Ltd. အမည်ဖြင့် (၃၁-၅-၂၀၁၅) ရက်နေ့အထိ အမေရိကန်ဒေါ်လာ ၁,၅၇၅,၅၆၆.၀၇ ရှိကြောင်း ဖော်ပြထားသည့် ငွေကြေးအထောက်အထား တင်ပြထားပြီး၊ Bhagwati International Pte Limited သည် ကုမ္ပဏီ မှတ်ပုံတင်အမှတ် 200716889R ဖြင့် ၁၃-၉-၂၀၀၇ ရက်နေ့၌ စင်ကာပူနိုင်ငံတွင် ကုမ္ပဏီမှတ်ပုံတင်ထားကြောင်း အထောက်အထား၊ Notarial Certificate နှင့် MOA, AOA တင်ပြထားပါသည်။

၁၂။ မိခင်ကုမ္ပဏီ Bhagwati International Pte Limited မှ Bhagwati Veneer Private Limited တွင် Mr. Pradeep Kumar အား မန်နေဂျင်းဒါရိုက်တာအဖြစ်လည်းကောင်း၊ Ms. Sri Murali နှင့် Mr. Sushil Kumar More တို့အား ဒါရိုက်တာအဖြစ် လည်းကောင်း ခန့်အပ်ကြောင်း Board of Directors' (BOD) Resolution တင်ပြထားပါသည်။

၁၃။ Bhagwati Veneer Private Limited မှ သဘာဝ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး ဆန်းစစ်ခြင်း (IEE)နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (EMP) လုပ်ငန်းအစီရင်ခံစာ အပြည့်အစုံကို ဆက်လက်တင်ပြမည်ဖြစ်ကြောင်း တင်ပြစာ၊ သစ်စိုက်ခင်းလျှောက်ထား၍ စိုက်ပျိုးမည်ဖြစ်ကြောင်း တင်ပြစာ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်အစီအစဉ်များကို တင်ပြထား ပါသည်။

၁၄။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၁၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးများသို့ ဆက်လက်တင်ပြထားပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ စင်ကာပူနိုင်ငံ Bhagwati International Pte. Ltd. မှ မြန်မာနိုင်ငံတွင် Bhagwati Veneer Private Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာစုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၅၁)၊ မြေကွက်အမှတ် (၆၁၊ ၆၂)ရှိ စုစုပေါင်းမြေအကျယ်အဝန်း ၆.၂၆၄ ဧက (၂၅၃၄၉.၅၀၆ စတုရန်း မီတာ)ကို ငှားရမ်းကာ ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့်သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Bhagwati Veneer Private Limited | Bhagwati International Pte. Ltd. | 23-12 Tong Eng Building, 101 Cecil Road Singapore 069533 |
| | | Represented by its Directors: | |
| | | (၁) Mr. Pradeep Kumar<br>Nepalese<br>06667062 | No 19D Himalayan Heights Tahachal, Kathmandu Nepal. |
| | | (၂) Mr. Sushil Kumar More<br>Nepalese<br>06723221 | No 19D Himalayan Heights Tahachal Kathmandu Nepal. |
| | | (၃) Ms. Srimurali Nithya Kalyani<br>Indian<br>Z 1051277 | 39 Coronation Road Singapore 269450 |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၂၅၀၃၅၄၅၆၁

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်လှိုင်မျိုးမျိုးအောင်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

နောက်ဆက်တွဲ(က)

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / ဘဏ္ဍာ

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာ လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉. ၈. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၃၁ / ၂၀၁၅ (၆၃၁)

၁။ စင်ကာပူနိုင်ငံ Bhagwati International Pte. Ltd. မှ မြန်မာနိုင်ငံတွင် Bhagwati Veneer Private Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၅၁)၊ မြေကွက်အမှတ် (၆၁၊ ၆၂)ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၆. ၂၆၄ ဧက (၂၅၃၄၉. ၅၀၆ စတုရန်းမီတာ)ကို ငှားရမ်းကာ ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၄၆)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၅၁)၊ မြေကွက်အမှတ် (၆၁၊ ၆၂)ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၆. ၂၆၄ ဧက (၂၅၃၄၉. ၅၀၆ စတုရန်းမီတာ)အား တစ်စတုရန်းမီတာလျှင် တစ်နှစ်အတွက် USD 5 နှုန်းဖြင့် နှစ်(၃၀)+(၁၀)နှစ်+(၁၀)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၃. ၉. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၆)အရ Bhagwati Veneer Private Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Bhagwati Veneer Private Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/42., (5)




**နောက်ဆက်တွဲ(ခ)**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(စ)(၆)/( ၂၃၆၇ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၉-၈-၂၀၁၅ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၃၁/ ၂၀၁၅ (၆၃၂)

၁။ စင်ကာပူနိုင်ငံ Bhagwati International Pte. Ltd.မှ မြန်မာနိုင်ငံတွင် Bhagwati Veneer Private Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၅၁)၊ မြေကွက်အမှတ် (၆၁၊၆၂)ရှိ စုစုပေါင်းမြေအကျယ်အဝန်း ၆.၂၆၄ ဧက (၂၅၃၄၉.၅၀၆ စတုရန်းမီတာ) ကို ငှားရမ်းကာ ဈေးကွက်ဝင်အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍စိစစ်ပြီး သဘောထားမှတ်ချက် ပြန်လည်တင်ပြပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများထုတ်လုပ်ခြင်း လုပ်ငန်းနှင့်ပတ်သက်၍ စိစစ်ရာတွင် ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊ သုံးစွဲခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းများ၊ သစ်အမှုန်အမွှားများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ၊ လေ၊ မြေ ညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင် ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၃။ ကုမ္ပဏီမှ သစ်အချောစက်တည်ထောင်ခြင်းသည် သစ်တောဥပဒေ ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်

ဝယ်ယူနိုင်ပါကြောင်းနှင့် ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တောစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထားဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်၍ Bhagwati Veneer Private Ltd.မှ ဈေးကွက်ဝင် အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) အား အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုရန်အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(ဃ) အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ပါသည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan – EMP ) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း



MIC, 23
1419

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၁၈၂၉)
ရက် စွဲ၊ ၂၀၁၅ ခု နှစ်၊ ဩဂုတ်လ ၃၁ ရက်

MPF-4190
10.9.15

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉.၈. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၃၁ / ၂၀၁၅ (၆၃၃)

၁။ Bhagwati Veneer Private Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၅၁)၊ မြေကွက်အမှတ်(၆၁၊ ၆၂)တွင် အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှု၊ ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Bhagwati Veneer Private Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာစုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၅၁)၊ မြေကွက်အမှတ်(၆၁၊ ၆၂)တွင် အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ ကျွန်းသစ်ပါးလွှာနှင့် သစ်ခွဲသားများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန